အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Chin Dwin See Zar Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Chin Dwin See Zar Co., Ltd.<br>- ဦးတင်လတ်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - စံပယ်ကွန်ဒို ၊ ပုလဲလမ်း၊ ၃၁နှင့် ၃၂ လမ်းကြား၊ ၇၇ နှင့် ၇၈ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | အဆောက်အအုံပိုင်ရှင်<br>အဆောက်အအုံအရေအတွက်<br><br>အဆောက်အအုံ ငှားရမ်းခ<br>အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးတင်လတ်<br>- ၂၁ ပေ x ၄၅ ပေ အကျယ်အဝန်းစီရှိ RC (၄) ထပ် အဆောက်အဦ (၈) လုံး<br>- ကျပ် ၄၃,၀၀၀,၀၀၀ (တစ်လ)<br>- ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>အဆောက်အအုံငှားရမ်းခ<br>ပရိဘောဂနှင့်<br>လုပ်ငန်းသုံးပစ္စည်း<br>**စုစုပေါင်း** | ကျပ် ၅,၃၅၈.၅၈၀ သန်း<br>ကျပ် (သန်း)<br>၃,၅၅၅.၅၄၀<br>၅၁၃.၆၀၀<br><br>၁,၂၈၉.၄၄၀<br>၅,၃၅၈.၅၈၀ (ကျပ်၃၀၀.၀၀၀ သန်းထည့်ဝင်ပြီး) |



Salient

၇။ ဝန်ဆောင်မှုအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းထား

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခ နှုန်းထား (ကျပ်) |
|---|---|---|---|---|
| (က) | Foundation | ၆ | ၂၀၀ | ၂,၅၀၀,၀၀၀ |
| (ခ) | Higher National Diploma Year 1 | ၁၂ | ၂၀၀ | ၅,၀၀၀,၀၀၀ |
| (ဂ) | Higher National Diploma Year 2 | ၁၂ | ၂၀၀ | ၅,၀၀၀,၀၀၀ |
| (ဃ) | Year 3 UK Bachelor Top up (Electrical Engineering) | ၁၂ | ၇၀ | ၁၅,၀၀၀,၀၀၀ |
| (င) | Year 3 UK Bachelor Top up (Mechanical Engineering) | ၁၂ | ၅၀ | ၁၅,၀၀၀,၀၀၀ |
| (စ) | Year 3 UK Bachelor Top up (Civil Engineering) | ၁၂ | ၈၀ | ၁၄,၀၀၀,၀၀၀ |
| (ဆ) | Year 3 UK Bachelor Top up (Business Management) | ၁၂ | ၅၀ | ၁၄,၀၀၀,၀၀၀ |

၈။ ဝန်ထမ်းခန့်ထားမှု

**သင်ကြားရေး**

| | | ပြည်တွင်း | | ပြည်ပ |
|---|---|---|---|---|
| ဦးရေ | | ၈၉ ဦး | | ၇ ဦး |
| အမြင့်ဆုံးလစာ | ကျပ် | ၂,၆၀၀,၀၀၀ | ကျပ် | ၂,၆၀၀,၀၀၀ |
| အနိမ့်ဆုံးလစာ | ကျပ် | ၃၀၀,၀၀၀ | ကျပ် | ၃၀၀,၀၀၀ |

**စီမံခန့်ခွဲရေး**

| | | ပြည်တွင်း | | ပြည်ပ |
|---|---|---|---|---|
| ဦးရေ | | ၅၆ ဦး | | ၁ ဦး |
| အမြင့်ဆုံးလစာ | ကျပ် | ၁,၆၀၀,၀၀၀ | ကျပ် | ၃,၀၀၀,၀၀၀ |
| အနိမ့်ဆုံးလစာ | ကျပ် | ၁၈၀,၀၀၀ | | |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် Myawaddy Bank Ltd (Mandalay) တွင် ဦးတင်လတ် အမည်ဖြင့် ၅-၃-၂၀၁၉ ရက်စွဲတွင် ကျပ် ၃,၀၀၀,၀၆၇,၁၃၈.၅၈ ရှိကြောင်း တင်ပြထားပါသည်။<br>- RC (၄)ထပ် အဆောက်အဦ (၈)လုံး ၏ ပိုင်ဆိုင်မှုအထောက်အထားများ၊ အဆောက်အအုံ ငှားရမ်းခြင်းစာချုပ် (မူကြမ်း)နှင့် ဘေးပတ်ဝန်းကျင်နေထိုင်သူ (၁၀) ဦးမှ အဆိုပါလုပ်ငန်း ဆောင်ရွက်ရန် သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားများအား တင်ပြထားပါသည်။<br>- Chindwin College Myanmar အား BTEC Higher National Diploma Centre ဖွင့်လှစ်ရန် ခွင့်ပြုခဲ့သည့် အထောက်အထားများအား တင်ပြထားပါသည်။<br>- University of Portsmouth Higher Education Corporation၊ Star Education Group Pte. Ltd၊ Star Myr Pte. Ltd. တို့နှင့် Chindwin See Zar Co., Ltd. တို့ ချုပ်ဆိုထားသည့် International Collaborative Arrangement Agreement အား တင်ပြထားပါသည်။<br>- Chindwin See Zar Co., Ltd. မှ ရရှိထားသည့် ISO 9001: 2015 Certificate အား တင်ပြထားပါသည်။<br>- သင်ကြားမည့် သင်ရိုးညွှန်းတမ်းနှင့် သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် ပေးအပ်သည့် သင်တန်းဆင်းလက်မှတ်၊ နမူနာပုံစံ၊ အသိအမှတ်ပြုလက်မှတ် နှင့် ဒီပလိုမာများအား တင်ပြထားပါသည်။<br>- အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေပြင်ဆင်ချက်(၂၀၁၅)နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်တို့အား တင်ပြထားပါသည်။<br>- အလုပ်သမားများအတွက် လူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေး ဆောင်ရွက်မည့် အစီအစဉ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် Chindwin College အမည်ဖြင့် ၂၀၀၇ ခုနှစ်ကပင် စတင်ဆောင်ရွက်ခဲ့ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၀၈/ ၂၀၁၉(၃၂၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန် လ ၂၅ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Chin Dwin See Zar Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Chin Dwin See Zar Co., Ltd. မှ စံပယ်ကွန်ဒို၊ ပုလဲလမ်း၊ ၃၁ နှင့် ၃၂ လမ်းကြား၊ ၇၇ နှင့် ၇၈ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Chin Dwin See Zar Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ Layout Plan၊ ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်အထားများ၊ သင်ရိုးညွှန်းတမ်း၊ အဆောက်အဦပိုင်ဆိုင်မှု အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၅,၃၅၈.၅၈၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၃,၅၅၅.၅၄၀ |
| အဆောက်အဦငှားရမ်းခ | ၅၁၃.၆၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ၁,၂၈၉.၄၄၀ |
| **စုစုပေါင်း** | **၅,၃၅၈.၅၈၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၈၉ ဦး ပြည်ပဝန်ထမ်း ၇ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၆၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၅၆ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ၁ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၁,၆၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ လစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၁,၆၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ လစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Foundation | ၆ | ၂၀၀ | ၂,၅၀၀,၀၀၀ |
| (ခ) | Higher National Diploma Year 1 | ၁၂ | ၂၀၀ | ၅,၀၀၀,၀၀၀ |
| (ဂ) | Higher National Diploma Year 2 | ၁၂ | ၂၀၀ | ၅,၀၀၀,၀၀၀ |
| (ဃ) | Year 3 UK Bachelor Top Up (Electrical Engineering) | ၁၂ | ၇၀ | ၁၅,၀၀၀,၀၀၀ |
| (င) | Year 3 UK Bachelor Top Up (Mechanical Engineering) | ၁၂ | ၅၀ | ၁၅,၀၀၀,၀၀၀ |
| (စ) | Year 3 UK Bachelor Top Up (Civil Engineering) | ၁၂ | ၈၀ | ၁၄,၀၀၀,၀၀၀ |
| (ဆ) | Year 3 UK Bachelor Top Up (Business Management) | ၁၂ | ၅၀ | ၁၄,၀၀၀,၀၀၀ |

၆။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

**(ခ) ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေ၊ နည်း ဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါကပုဂ္ဂလိက ရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက် ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် Myawaddy Bank Ltd (Mandalay) တွင် ဦးတင်လတ် အမည်ဖြင့် ၅-၃-၂၀၁၉ ရက်စွဲတွင် ကျပ် ၃,၀၀၀,၀၆၇,၁၃၈.၅၈ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) Chindwin See Zar Co., Ltd. သည် University of Portsmouth Higher Education Corporation၊ Star Education Group Pte. Ltd၊ Star Myr Pte. Ltd. တို့နှင့် Collaborative Arrangement Agreement များချုပ်ဆိုထားကြောင်း တွေ့ရှိရပါသည်။

(ခ) ကုမ္ပဏီသည် BTEC Higher National Diploma Centre ဖွင့်လှစ်ရန် ခွင့်ပြုခဲ့သည့် အထောက်အထားများနှင့် ISO 9001: 2015 Certificate အား တင်ပြထားကြောင်း တွေ့ရှိရပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(င) ကုမ္ပဏီသည် Chindwin College အမည်ဖြင့် ၂၀၀၇ ခုနှစ်ကပင် စတင်ဆောင်ရွက်ခဲ့ကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Chindwin See Zar Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ





| ဝင်စာအမှတ် | M4.1827 |
|---|---|
| ရက်စွဲ | 6.6.2019 |

နောက်ဆက်တွဲ(က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**
**မန္တလေးမြို့**

စာအမှတ်၊ ၂ / ၃ - ၄ / ၄ ဦး၆ ( ၁၆၅ )
ရက် စွဲ ၊ ၂၀၁၉ ခုနှစ် ၊ မေလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၇ - ၅ - ၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၅ (အ) / ၁ - ၀၃၆ / ၂၀၁၉ ( ၂၅၈)

၁။ Chin Dwin See Zar Company Limited မှ စံပယ်ကွန်ဒို (ဂရိတ်ဝေါကွန်ဒို) ၊ ၃၁×၃၂ လမ်းကြား ၇၇×၇၈ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာမှုအပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ စံပယ်ကွန်ဒို (ဂရိတ်ဝေါကွန်ဒို)၊ ၃၁×၃၂ လမ်းကြား ၇၇×၇၈ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်တွင် Chin Dwin See Zar Company Limited မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

D 0819
4.6.19

29/5/2019
**ဒေါက်တာဇော်မြင့်မောင်**
**ဝန်ကြီးချုပ်**

မိတ္တူကို

မန္တလေးတိုင်းဒေသကြီးပညာရေးမှူးရုံး
မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Chin Dwin See Zar Company Limited
လှည့်လည်စာတွဲ / ရုံးလက်ခံ

NPT-2613
17.6.19



နောက်ဆက်တွဲ(ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

| | |
|---|---|
| ဝင်စာအမှတ် | M4-7847 |
| ရက်စွဲ | 19.6.19 |

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၁၃၁၃/၂၀၁၉(၁၀၈၇၁)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၆-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ခ-၀၃၆/၂၀၁၉(၃၀၆)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Chin Dwin See Zar Company Limited မှ စံပယ်ကွန်ဒို (ဂရိတ်ဝေါကွန်ဒို)၊ ၃၀ x ၃၂ လမ်းကြား၊ ၇၇ x ၇၈ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ဖော်ပြပါ သတ်မှတ်ချက်များကို မဖြစ်မနေ စိစစ်ရန်နှင့် Chin Dwin See Zar Company Limited ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိက ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက် အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက် အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာ၊ ဆေးလိပ်နှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

(ဒ) လုံခြုံဘေးကင်းပြီး ကလေးပျော် စံပြစာသင်ကျောင်း ဆောက်လုပ်ရေး လမ်းညွှန်ချက်နှင့်အညီ ဆောင်ရွက်ရန် ကတိပြုဝန်ခံချက် (Safe and Child-friendly School Construction Guidelines)

၃။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ၀၆၇ ၃၄၀၇၁၁၆

အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Chin Dwin See Zar Company Limited မှ စံပယ်ကွန်ဒို (ဂရိတ်ဝေါကွန်ဒို)၊ ၃၁ x ၃၂ လမ်းကြား၊ ၇၇ x ၇၈ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆို ပါကြောင်း၊ ပညာရေးဝန်ဆောင်မှုဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိက ရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေးလုပ်ငန်းခွင့်ပြုချက်ရရှိရန် အချိန်ယူ စိစစ် ဆောင်ရွက်ရသည့်အတွက် ၂၀၁၉ ခုနှစ်၊ ဇွန်လ(၁၈)ရက် ပြန်ကြားရန် ခက်ခဲပါကြောင်း (အမျိုးသားပညာရေး ဥပဒေ ပုဒ်မ - ၂ (ဓ) အရ အမျိုးသား ပညာရေးမူဝါဒကော်မရှင်၊ အမျိုးသား ပညာရေးအဆင့်အတန်းနှင့် အရည်အသွေးအာမခံမှု အကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များ ကော်မတီတို့၏ သဘောထားရယူရန်လိုကြောင်း၊) ပြန်ကြားအပ်ပါသည်။

Kyaw Naing 10-6-19

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ